# ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dream Aesthetics Company Limited တည်ထောင်၍ Medical and non-medical aesthetics business, including facial, body and other treatments လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br><br><br>လုပ်ငန်းအမျိုးအစား | - Dream Aesthetics Company Limited<br>- Dream Aesthetics Company Limited<br>- ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Dream Sea Holdings Pte. Ltd. (စင်္ကာပူ) ၉၀ %<br>Dream International Concierge Pte.Ltd. (စင်္ကာပူ) ၁၀ %<br>- Medical and non - medical aesthetics business, including facial, body and other treatments |
| ၂။ | တည်နေရာ | - အမှတ် ၄၅၆-အေ၊ ၄၅၆-ဘီ ၁၁ နှင့် ၁၂၊ မြေညီထပ် အခန်းအမှတ်(၈) နှင့် ယူနစ် စီ (၅) ပထမထပ်၊ ဘီဘလော့၊ ဂိုးဒင်းလင့် ကွန်ဒို၊ လင့်လမ်း၊ အရှေ့ရွှေဂုံတိုင်ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| ၃။ | တိုက်ခန်းပိုင်ရှင်<br>အကျယ်အဝန်း<br>မြေ/အဆောက်အအုံ ငှားရမ်းခ<br><br>မြေ/အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့် သက်တမ်း | - ဦးစိုးဝင်း<br>- ၁၁၁.၉၅ စတုရန်းမီတာ<br>- တစ်နှစ်လျှင်အမေရိကန်ဒေါ်လာ ၃၈,၈၈၀.၀၀ (တစ်စတုရန်းမီတာလျှင် တစ်နှစ် အမေရိကန်ဒေါ်လာ ၃၄၇.၂၈)<br>- ကနဦး(၃) နှစ်၊ သက်တမ်းတိုး(၃) နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | **စုစုပေါင်း မတည်ငွေရင်း**<br>ထည့်ဝင်သည့် အမျိုးအစား<br>(က)ငွေသား<br>(ခ) လုပ်ငန်းသုံးစက်ပစ္စည်း<br>**စုစုပေါင်း** | **- အမေရိကန်ဒေါ်လာ ၄၀၀,၀၀၀**<br><br>- ၃၂၀,၅၅၀<br>- ၇၉,၄၅၀<br>- **၄၀၀,၀၀၀** |
| ၇။ | ဝန်ဆောင်မှုနှင့်ဈေးနှုန်း<br>(ပထမနှစ်) | |

| စဉ် | အမျိုးအစား | အရေအတွက် | ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|
| (က) | Body1- body fat and muscle composition analysis | ၁၀၀ | ၂၀ |
| (ခ) | Body2- reducing cellulite and | ၁၀၀ | ၆၀၀ |



Salient

| | | | |
|---|---|---|---|
| | shaping the body | | |
| (ဂ) | Body3-reducing the excessive fat size and firming | ၁၀၀ | ၉၀၀ |
| (ဃ) | Face 1- laser-brightening | ၇၀ | ၃၀၀ |
| (င) | Face 2-laser – lighten pigmentation | ၇၀ | ၃၀၀ |
| (စ) | Face 3-laser-hair removal | ၇၀ | ၂၀၀ |
| (ဆ) | Face4-laser-tightening pores | ၇၀ | ၃၀၀ |
| (ဇ) | Face 5-facial for hydrating | ၅၅ | ၂၀၀ |
| (ဈ) | Face 6-facial for anti aging and rejuvenating | ၅၅ | ၂၀၀ |
| (ည) | Face 7-facial for whitening | ၆၀ | ၂၀၀ |
| (ဋ) | Face 8- facial for acne | ၅၅ | ၂၀၀ |

| | | |
|---|---|---|
| ၈။ | အခြားတင်ပြချက်များ | - အတည်ပြုလျှောက်ထားလွှာနှင့်အတူ Dream Aesthetics Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(ယာယီ)၊ MOA နှင့် AOA တင်ပြထားပါသည်။<br>- Dream Aesthetics Company Limited နှင့် တိုက်ခန်းပိုင်ရှင် ဦးစိုးဝင်းတို့ ချုပ်ဆိုမည့် အခန်းငှားရမ်းခြင်း စာချုပ် (မူကြမ်း) နှင့် ပိုင်ဆိုင်မှုအထောက်အထားများကို တင်ပြထားပါသည်။<br>- ပြည်တွင်းဝန်ထမ်း ၁၀ ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀၊ အမြင့်ဆုံး လစာကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။<br>- ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။ |
| ၉။ | စိစစ်တင်ပြချက် | (က) အတည်ပြုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် အကျုံးဝင်သည့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်း မရှိသည့်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ရရှိနိုင်မည်မဟုတ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>(ခ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။<br>(ဂ) အမေရိကန်ဒေါ်လာ ၇၉,၄၅၀ တန်ဖိုးရှိ စက်နှင့်စက်ပစ္စည်းကိရိယာများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက - ၅(အ)/န-၁၄၃/၂၀၁၇(၄၉၈)

ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ နိုဝင်ဘာလ ၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dream Aesthetics Company Limited တည်ထောင်၍ Medical and non-medical aesthetics business, including facial, body and other treatments လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်္ကာပူနိုင်ငံ Dream Sea Holdings Pte. Ltd. မှ ၉၀ % နှင့် စင်္ကာပူနိုင်ငံ Dream International Concierge Pte.Ltd. မှ ၁၀ % ထည့်ဝင်ကာ Dream Aesthetics Company Limited တည်ထောင်၍ အမှတ် ၄၅၆-အေ၊ ၄၅၆-ဘီ ၁၁ နှင့် ၁၂၊ မြေညီထပ် အခန်းအမှတ်(၈)နှင့် ယူနစ် စီ (၅) ပထမထပ် ၊ ဘီဘာလော့၊ ဂိုးဒင်းလင့်ကွန်ဒို၊ လင့်လမ်း၊ အရှေ့ရွှေဂုံတိုင်ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ တိုက်ခန်းအား ငှားရမ်း၍ medical and non-medical aesthetics business, including facial, body and other treatments လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ ဖြင့် တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Dream Aesthetics Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(ယာယီ) ၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် တိုက်ခန်းငှားရမ်းခြင်း စာချုပ် (မူကြမ်း) တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃ နှစ်နှင့် သက်တမ်းတိုး ၃ နှစ် ဖြစ်ပြီး တိုက်ခန်းအကျယ် အဝန်း (၁၁၁.၉၅ စတုရန်းမီတာ) အား ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။ နှစ်စဉ် ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၃၈,၈၈၀(တစ်စတုရန်းမီတာလျှင် တစ်နှစ် အမေရိကန်ဒေါ်လာ ၃၄၇.၂၈) ဖြစ်ပါသည်။

၄။ လုပ်ငန်း၏သက်တမ်းကာလမှာ ၁၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၁)နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၄၀ သန်း ဖြစ်ပြီး အမေရိကန်ဒေါ်လာ ၇၉,၄၅၀ တန်ဖိုးရှိ လုပ်ငန်းသုံးစက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်း ပမာဏမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **US$** |
|---|---|
| ငွေသား | ၃၂၀,၅၅၀ |
| လုပ်ငန်းသုံးစက်ပစ္စည်း | ၇၉,၄၅၀ |
| **စုစုပေါင်း** | **၄၀၀,၀၀၀** |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၁၀) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။

၈။ အတည်ပြုလုပ်ငန်းသည် medical and non-medical aesthetics business, including facial, body and other treatments လုပ်ငန်းများကို ပြည်တွင်းတွင် ၁၀၀% ဝန်ဆောင်မှုပေးမည်ဖြစ်ပြီး ပုံမှန်နှစ်(ပထမနှစ်) ၏ ဝန်ဆောင်မှုပေးနိုင်မည့် အရေအတွက်နှင့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စဉ်** | **အမျိုးအစား** | **အရေအတွက်** | **ဝန်ဆောင်ခနှုန်း (US$)** |
|---|---|---|---|
| (က) | Body1- body fat and muscle composition analysis | ၁၀၀ | ၂၀ |
| (ခ) | Body2- reducing cellulite and shaping the body | ၁၀၀ | ၆၀၀ |
| (ဂ) | Body3-reducing the excessive fat size and firming | ၁၀၀ | ၉၈၀ |
| (ဃ) | Face 1- laser-brightening | ၇၀ | ၃၀၀ |
| (င) | Face 2-laser – lighten pigmentation | ၇၀ | ၃၀၀ |
| (စ) | Face 3-laser-hair removal | ၇၀ | ၂၀၀ |
| (ဆ) | Face 4-laser-tightening pores | ၇၀ | ၃၀၀ |
| (ဇ) | Face 5-facial for hydrating | ၅၅ | ၂၀၀ |
| (ဈ) | Face 6- facial for anti aging and rejuvenating | ၅၅ | ၂၀၀ |

(ည) Face 7-facial for whitening ၆၀ ၂၀၀
(ဋ) Face 8- facial for acne ၅၅ ၂၀၀

၉။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်အား **နောက်ဆက် တွဲ-က** ဖြင့် တင်ပြထားပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် Dream Aesthetics Company Limited အမည်ဖြင့် ကမ္ဘောဇဘဏ်၌ (၆-၁၁-၂၀၁၇) ရက်စွဲဖြင့် US$ ၇၅,၁၀၀.၀၀ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အတည်ပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အတည်ပြုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် အကျုံးဝင်သည့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်း မရှိသည့်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် မရရှိနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ခ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန်လိုအပ်ပါသည်။

(ဂ) အမေရိကန်ဒေါ်လာ ၇၉,၄၅၀ တန်ဖိုးရှိ စက်နှင့်စက်ပစ္စည်း ကိရိယာများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ သို့ဖြစ်ပါ၍ Dream Aesthetics Company Limited မှ medical and non-medical aesthetics business, including facial, body and other treatments လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

နောက်ဆက်တွဲ-က

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင် လ ၁၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀.၆.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၄၃/၂၀၁၇(၁၁၃)

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်္ကာပူနိုင်ငံ Dream Sea Holdings Pte. Ltd. မှ ၉၀%၊ စင်္ကာပူနိုင်ငံ Dream International Concierge Pte. Ltd. မှ ၁၀% ဖြင့် မြန်မာနိုင်ငံတွင် Dream Aesthetics Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ အရှေ့ရွှေဂုံတိုင်ရပ်ကွက်၊ လင့်လမ်း၊ ဂိုးဒင်းလင့်ကွန်ဒို၊ ယူနစ်(၂) စီ (၅)၊ မြေညီထပ်၊ အခန်းအမှတ် (၈)တွင် မျက်နှာအလှပြင်ခြင်း၊ ခန္ဓာကိုယ်အလှပြင်ခြင်းနှင့် အခြားသော ကုသမှုများအတွက် ဆေးကုသမှုဖြင့်ဖြစ်စေ၊ ဆေးကုသမှုမပါဘဲနှင့်ဖြစ်စေ ဝန်ဆောင်မှုပေးသော အလှအပဆိုင်ရာ စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၃.၇.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၈)အရ ကျန်းမာရေးဝန်ကြီးဌာန၏ ထောက်ခံချက်ရရှိပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဗဟန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Dream Aesthetics Company Limited
လက်ခံစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန

ဝန်ကြီးရုံး




စာအမှတ်၊ ၁မခ(က)၂၀၁၇/ ၁၅၂၄၅

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ(၅)ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် တောင်းခံခြင်းအပေါ် ညှိနှိုင်းပြန်ကြားခြင်း။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉-၈-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/န-၀၄၃/၂၀၁၇(၃၆၉)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်္ကာပူနိုင်ငံ Dream Sea Holdings Pte.Ltd.မှ ၉၀%၊ စင်္ကာပူနိုင်ငံ Dream International Concierge Pte. Ltd. မှ ၁၀% ဖြင့် မြန်မာနိုင်ငံတွင် Dream Aesthetics Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ အရှေ့ရွှေဂုံတိုင်ရပ်ကွက်၊ လင့်လမ်း၊ ဂိုးဒင်းလင့်ကွန်ဒို၊ ယူနစ် (၂)စီ (၅)၊ မြေညီထပ်၊ အခန်းအမှတ်(၈)တွင် မျက်နှာအလှပြင်ခြင်း၊ ခန္ဓာကိုယ်အလှပြင်ခြင်းနှင့် အခြားသောကုသမှုများအတွက် ဆေးကုသမှုဖြင့်ဖြစ်စေ၊ ဆေးကုသမှုမပါဘဲနှင့်ဖြစ်စေ ဝန်ဆောင်ပေးသော အလှအပဆိုင်ရာ စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုရန်အတွက် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ ကုသရေးဦးစီးဌာနအနေဖြင့် မျက်နှာအလှပြင်ခြင်း၊ ခန္ဓာကိုယ်အလှပြင်ခြင်းနှင့် အခြားသောကုသမှုများအတွက် ပုဂ္ဂလိကအထူးကုဆေးခန်းလုပ်ငန်းလိုင်စင်လျှောက်ထားရန် လိုအပ်ခြင်း၊ အဆိုပါဥပဒေ ပုဒ်မ ၉ ပါအတိုင်း အထူးကုဆေးခန်းသည် ပုဂ္ဂလိကဆေးခန်း၏ အင်္ဂါရပ်များနှင့် ညီညွတ်ရမည်ဖြစ်ခြင်း၊ သတ်မှတ်ထားသော ကျန်းမာရေးစောင့်ရှောက်မှုပေးသူအဖြစ် အလှအပနှင့် အရေပြားဆိုင်ရာ အထူးကုဆရာဝန်ကို ဝန်ထမ်းအင်အား ထည့်သွင်းဖွဲ့စည်းရမည်ဖြစ်ပါကြောင်းနှင့် ကုမ္ပဏီအနေဖြင့် ပြည်ပမှ ပညာရှင်များဖိတ်ခေါ်၍ ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံဆေးကောင်စီဥပဒေနှင့်အညီ ကန့်သတ်ဆေးကုသခွင့်လိုင်စင်လျှောက်ထားရန်နှင့် ဆေးခန်းတွင် အသုံးပြုမည့် အလှအပဆိုင်ရာပစ္စည်းများအတွက် အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်ရယူရန် လိုအပ်ပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန

**SCHEDULE (1) – LIST OF PRODUCTION EQUIPMENTS NEEDED (Import List)**

| NO. | LIST OF ITEM | DESCRIPTION | HS CODE (WITH FORUDIGIST) | UNIT | QUANTITY | UNIT PRICE(USD) | TOTAL VALUE (Approx value) | SOURCE | |
|---|---|---|---|---|---|---|---|---|---|
| | | | | | | | | LOCAL | IMPORT |
| | 1 | | 2 | 3 | 4 | 5 | 6 | 7 | 8 |
| 1. | 3 Max Plus | Body slimming machine (Brand new) | | 1 | 1 | 15,852 | 15,852 | | Import |
| 2. | X-Wave | Body slimming machine(Brand new) | | 1 | 1 | 23,057 | 23,057 | | Import |
| 3. | A-tone | Machine for face complexion and hair removal (Brand new) | | 1 | 1 | 19,214 | 19,214 | | Import |
| 4. | A-tone hand piece | Machine extra part (Brand new) | | 1 | 1 | 1,729 | 1,729 | | Import |
| 5. | LED light | Machine for facial (Second Hand) | | 2 | 2 | 908 | 1,816 | | Import |
| 6. | Diamond peel microdermabrasion | Machine for facial (Brand new) | | 2 | 2 | 259 | 518 | | Import |
| 7. | Inbalance | Body composition analyzer (Brand new) | | 1 | 1 | 3,699 | 3,699 | | Import |
| 8. | Eclip | Machine for firming skin (Brand new) | | 1 | 1 | 8,454 | 8,454 | | Import |
| 9. | Autoclave | Machine for sterilizing (Brand new) | | 1 | 1 | 786 | 786 | | Import |
| 10. | Diathermy | Machine to stimulate the circulation, relieve pain, destroy unhealthy tissue (Brand new) | | 1 | 1 | 4323 | 4323 | | Import |
| | TOTAL | | | 12 | 12 | 78281 | 79450 | | |

Note: Please specify the brand new item or reconditioned item.